

# ကလေး အမည်ပေးနည်း နှင့် လုပ်ငန်း အမည်ပေးနည်း


ဆရာရန်အောင်ဟိန်း
(B.Sc)

L.M.A
3.6.2016
စာစဉ်ပြောင်း
ပေါင်းစုံ

မဇ္ဈိမစာစဉ် (၁၃၁)





ဖြန့်ချိရေး

မဇ္ဈိမစာပေ

အမှတ် (၂၃၇)၊ (ပထမထပ်-ညာ)၊ ၃၉-လမ်း။ အပေါ်ဘလောက်၊
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။


ဖုန်း - ၀၁-၃၉၂၈၃၅၊ ၀၉-၇၃၀၅၉၉၃၅၊ ၀၉-၅၀၅၆၈၄၃

# မာတိကာ

# အမှာစကား

စာရေးသူအနေနှင့် မဂ္ဂဇင်း (၄)၊ (၅)စောင်တွင် အမည်ပေးခြင်းနှင့်ပတ်သက်၍ ဆောင်းပါးများ ရေးသားခဲ့ဘူးပါသည်။ ယခုမဇ္ဈိမစာပေမှ ကလေး(လူ)အမည် ပေးခြင်းအပြင် လုပ်ငန်းအမည်၊ လိုဂိုဒီဇိုင်း၊ အရောင်များအသုံးပြုပုံများပါ တစ်အုပ်တည်းနှင့် ပြီးပြည့်စုံမည့် "အမည်ပေးနည်း" ကျမ်းတစ်စောင် ရေးသားပေးဖို့ရာ တိုက်တွန်းလာခဲ့ပါသည်။ မြန်မာပြည်တွင် အမည်ပေးနည်းများစွာရှိရာ၌ စာရေးသူအကြိုက်ဆုံး အမည်ပေးနည်းကို ဖော်ပြရလျှင် "ဆန်းကျမ်းဗေဒင်"ပညာဖြင့် အမည်ပေးနည်းကို ဖော်ပြရပေမည်။ အခြား မဟာဘုတ်၊ အင်္ဂဝိဇ္ဇာတို့ဖြင့် အမည်ပေးနည်းများရှိကြသော်လည်း ဟာကွက် ပျော့ကွက်များစွာရှိနေပါသည်။ ဆန်းကျမ်းဗေဒင်ပညာဖြင့် အမည်ပေးရာတွင် မဟာဘုတ်ဗေဒင်ပညာအပြင် ဗျဉ္ဇနသုဒ္ဓိဆန်းပါ ပူးတွဲပါဝင်၍ မဟာဘုတ်ဗေဒင်ပညာလည်း ပါဝင်ပြီးဖြစ်ကာ၊ ဗျည်းအက္ခရာတို့ကို သုံးသပ်ခြင်းပါ ပါဝင်နေပါသေးသည်။ "နာမက္ခရဆန်း"ဟု လူသိများသော ပညာတွင် မဟာဘုတ်ပညာ၊ ဗျဉ္ဇနသုဒ္ဓိဆန်းနှင့် ဆန်းဂိုဏ်းရွေးနည်းများ ပူးလိမ်းပါဝင်နေ၍ ပျော့ကွက် ဟာကွက်နည်းပါးသွားပါသည်။

ယခုအမည်ပေးကြရာတွင် အင်္ဂဝိဇ္ဇာပညာဖြင့် လွယ်ကူစွာပေး

ခြင်းမျိုးကို အသုံးများနေကြပါသေးသည်။ အင်္ဂဝိဇ္ဇာပညာသီးသန့်တွင် အမည်ပေးနည်းမပါဝင်ပဲ၊ နောက်ပေါ်ဆရာ (အပရေဆရာ)တို့ ညာဏ်ကွန့် အသုံးချခဲ့ခြင်းဖြစ်ကြောင်း ဂမ္ဘီရမင်္ဂဇင်းတွင် နာမည်နဲ့ ပတ်သက်၍ ဆောင်းပါးစဉ်များ ရေးရာတွင် စာရေးသူ ဖော်ပြခဲ့ပါသည်။ ဆရာတော် ခင်ကြီးပျော်၏ အင်္ဂဝိဇ္ဇာကျမ်းရင်းလက်ာ (၃၀)ကျော်တွင် နာမည်ပေးရန် အချက်ကို မတွေ့ရှိခဲ့ရ၍ ဖြစ်ပါသည်။ ထို့ပြင် အင်္ဂဝိဇ္ဇာပညာတွင် (၇)နေ့ သားအတွက်(၇)တိုင်၊ မွေးနေ့ကို ထိုင်ထူသည့် ၁ တိုင်သာရှိ၍ မဟာဘုတ် ဇာတာတွင် အကြွင်း(၇)ခု၊ နေ့သား (၇)မျိုး (၄၉)မျိုးသော မွေးနံနေပုံ ကြောင့် မဟာဘုတ်ဇာတာမပါဘဲ အမည်ပေးပါက အားနည်းချက်များစွာ ရှိနေပါလိမ့်မည်။

အချို့က ဇာတာကို နက္ခတ်ဗေဒင်ပညာဖြင့် ဖွဲ့ယူ၍ ကိန်း၊ တြိကောဏ၊ ဥစ်၊ ကသစ်၊ ကိတ် စသည်ဖြင့် ဂြိုဟ်အားကောင်းခြင်းကို ရှာကာ အမည်ပေးကြပြန်ပါသည်။ တနင်္ဂနွေဂြိုဟ် အ အစ ဩ အဆုံး အက္ခရာ (၈)လုံး၊ တနင်္လာဂြိုဟ် က၊ ခ၊ ဂ၊ ဃ၊ င စသည်ဖြင့် လက်ဆန်း ဗေဒင်မှ အယူအဆကို ဇာတာတွင်းဂြိုဟ်နှင့် တိုက်ရိုက်တွဲစပ် အသုံးပြု ခြင်းဖြစ်သည်။ လွဲလှချေ၏။ သရောဒျ ယ သရဒွေး ကျမ်းလာ စန်းယှဉ် နက္ခတ်(စင်နက္ခတ်)အရ အက္ခရာရွေးကောက်၍ အမည်ပေးသော် သင့်မြတ် ပါသည်။ အထက်ပါ ဇာတာမှ ဂြိုဟ်ကို လက်ဆန်းဗေဒင်ပညာမှ အက္ခရာ အယူအဆနှင့် တွဲ၍ ယူခြင်းကား လွဲမှားလှပါသည်။

ယခု နာမည်ပေးခြင်း(လူ၊ လုပ်ငန်း)ကို အပြည့်စုံဆုံး၊ ဟာကွက် ပျော့ကွက်အနည်းဆုံးဖြစ်စေရန် ကြိုးစားအားထုတ်ရေးသွားပေးသွားပါ မည်။ စာရေးသူ၏ ဗေဒင်ဆရာဘဝတွင် တစ်သက်တာ အကောင်းဆုံး ဖြစ်စေမည့် နာမည်မျိုးပေး ပေးပါဟု ဆိုလာသည်များ မကြာခဏ ကြားခဲ့ ရဘူးပါသည်။ တစ်သက်တာလုံးကောင်းရန် အမည်ပေး၍ မရပါဟုဆိုနိုင် ပါသည်။ မွေးသောရက်၊ လ၊ နှစ်အရ အကောင်းဆုံး အားအပြည့်ဆုံး အမည်မျိုးသာပေး၍ ရပါသည်။ ယင်းအမည်မျိုးကား ကိုယ်ခံအားကောင်း ခြင်းနှင့်တူ၏။ ကိုယ်ခံအားကောင်းသူတွင် ရောဂါဘယဝင်လာရန် ခဲယဉ်း

ပြီး ဝင်လာပါကလည်း ကုရလွယ် သက်သာလွယ်စေပါသည်။ မွေးသော အခံအားကောင်းသော အမည်ကား အဆိုး (ဝါ) အပျက်အားဝင်လာက အားနည်းတတ်ပြီး၊ ယတြာဟူသော ကာကွယ်ရေးလက်နက်ဖြင့် လွယ်ကူစွာ ပြေပျောက်စေနိုင်ပါသည်။ ထိုသူမျိုးအတွက် ကောဇာနှစ် လှည့်ပတ် ပြောင်း လဲမှုနှင့် အသက်ပိုင်းပြောင်းလဲမှုအရ အညံ့ပေါ်သည့်တိုင်အောင် ယတြာဖြင့် ပြေပျောက်စေရန် ပြုရလွယ်စေပါမည်။

သို့ဖြစ်၍ မွေးသောနှစ်၊ လ၊ ရက်အရ အားအပြည့်ဆုံး အကောင်း ဆုံးအမည်မျိုးဖြင့် ကိုယ်ခံအားကောင်းသူကဲ့သို့ ဖြစ်ရန် နာမည်ပေးနည်း များကို ပြည့်စုံစွာ ဖော်ပြပေးသားပါမည်။ လုပ်ငန်းအမည်ပေးရာတွင် လည်း အလားတူပင်ဖြစ်ပါသည်။

နာမည်ပေးပုံ နည်းမျိုးစုံနှင့် အကောင်းဆုံး အပြည့်စုံဆုံးနာမည် ပေးနည်းများကို လေ့လာကြရပါတော့မည်။

ဆရာရန်အောင်ဟိန်း (B.Sc)
27-12-2012 (11:50)AM



# ☘ အခန်း(၁) ☘

## သညာဝိဓာနဆန်း

နာမည်ပေးနည်း အခြေခံများ ဖော်ပြပြီးနောက် ဆန်းကျမ်းဗေဒင်ပညာတွင် "သညာဝိဓာနဆန်း"ဟု အခန်းတစ်ခုလာရှိပါသည်။ "သညာ" နာမည်ကို "ဝိဓာန" စီရင်ရာအခန်းဟု အဓိပ္ပါယ်ရပေသည်။ နာမည်စီရင်နည်းဟုဆိုရာ၌ နာမည်မှည့်ခြင်း၊ နာမည်ဖြစ်ပေါ်လာခြင်းပင်ဖြစ်သည်။ သညာ = မှာ၊ နာမ = နာမည်ပင်ဖြစ်ပြီး၊ ဝေါဟာရ - မှာ ယင်းနာမည်ကို ခေါ်ခြင်းဖြစ်သည်။ ထို့ကြောင့် အမည် (ဝါ) နာမည်သည် "သညာ"ဖြစ်ပြီး၊ ယင်းမှာ "ဝေါဟာရ"ပင်ဖြစ်သည်။ ရှေးပညာရှိများက နာမည်ကို "အမှတ်အသားပြုရာ"ဟု အဓိပ္ပါယ်ဖွင့်ခဲ့ကြသည်။ လူသတ္တဝါတို့အား "အမှတ်အသားပြုထားခြင်း"ပင်ဖြစ်သည်။ ယင်းသို့ အမှတ်အသား ပြုမထားပါက များပြားလှသောသူများကို ခွဲခြားယူရန် လွယ်ကူမည်မဟုတ်ပါချေ။

ဆန်းကျမ်းဗေဒင်ပညာကို လေ့လာရာ၌ "နာမေဝ၊ အဓိဝစနံ"ဟု မှတ်သားခဲ့ရဖူးပါသည်။ နာမေဝ - နာမည်သည်၊ ဝစနံ - ထိုစကားတို့တွင်၊ အဓိ - အဓိကကျသည်ဟု ဆိုခြင်းဖြစ်ပါသည်။ တနင်္ဂနွေသားဖြစ်ပါစေ၊ လှသန်းဟု အမည်ပေးထားလျှင် "လှသန်း"ခေါ်မှ ထိုသူက သူ့အားခေါ်သည်ဟု သိရှိရပေမည်။

နာမည်ကို ဝေါဟာရဟုခေါ်သည်။ ဝေါဟာရကား အက္ခရာများ

မှ ဖြစ်ပေါ်လာသည်။ မြန်မာတို့သည် "က မှ အ" အဆုံး ဗျည်းအက္ခရာ (၃၃)လုံးနှင့် "အ၊ အာ၊ ဣ၊ ဤ၊ ဥ၊ ဦ၊ ဧ၊ ဩ"ဟူသော သရရှစ်လုံးကို တွဲဖက်၍ အသုံးပြုခြင်းဖြင့် မြန်မာဘာသာစကားဟူ၍ ဖြစ်လာရပေသည်။ နာမည်ပေးခြင်းတွင် ယင်းဗျည်းများ၊ သရများကို မွေးဖွားသော နှစ်၊ လ၊ ရက်၊ နှစ်၊ မဟာဘုတ်၊ ဖွားဇာတာနှင့်တွဲဖက်ကာ အပြစ်ကင်းစင် အင်အားပြည့်သော နာမည်တစ်ခုရအောင်ဖော်ဆောင်ပေးရခြင်းများ ပါဝင်နေပါသည်။ ထို့ကြောင့် နာမည်ကို လွယ်လွယ်မပေးအပ်ပါချေ။

ဤနံနှင့် ဤနံတွဲစပ်၍ ပေးနိုင်သည်ဟု ဆိုရခြင်းက အပေါ်ယံသဘောမျှသာဖြစ်ပါသည်။ ဤသို့နံသင့်များ စပ်ဟပ်ပေးခြင်းဖြင့် အားနည်းသော အမည်များ ထွက်ပေါ်လာနိုင်ပါသည်။ အချို့က နာမည်ကို ခေတ်မီ၊ လှပ၊ ဆန်းသစ်လိုကြသည်။ အနောက်တိုင်းဆန်သူများက မိဘအမည် အထူးသဖြင့် အဖေအမည်ကို နောက်မှထည့်ချင်ကြသည်။ အနောက်တိုင်း နာမည်ပေးနည်းမှာ မျိုးရိုးအမည်နှင့် ပုဂ္ဂိုလ်ရေးအမည်(ထိုသူအား သီးခြားမှည့်ခေါ်သော အမည်)တွဲစပ်ခြင်းမျိုးဖြစ်သည်။ မြန်မာမှု နာမည်ပေးခြင်းတွင် အဓိကအားဖြင့် ကောင်းမွန်သည့် အဓိပ္ပါယ်ရစေရန်မွေးဖွားသော မဟာဘုတ်ဇာတာအရ ကောင်းမွန်သောဂြိုဟ်များဖြင့် ရွေးချယ်ကာ မှည့်ခေါ်ရခြင်းဖြစ်သည်။ မတူခြားနားသော အယူအဆနှစ်ခုဖြစ်သည်။

စာရေးသူထံ အမည်ပေးလာပါက လှပခြင်း၊ ဆန်းသစ်ခြင်းအတွက် ရွေးချယ်နိုင်သော်လည်း အချို့ကိစ္စများတွင် အဖေနာမည် နောက်မှထည့်ခြင်းကို လုံးဝငြင်းပယ်ရခြင်းမျိုး (ဥပမာ-ပုတိ၊ ဘင်္ဂ၊ မရဏ)ရှိခဲ့ဘူးပါသည်။ ပညာရပ်အရ လိုက်လျော၍ လုံးဝမရသော ကိစ္စဖြစ်ပါသည်။ ဒါတွေမလိုပါဘူးဟု ခေတ်အမြင်ရှိသူများကား မိမိဘာသာ မှည့်ချင်သလို မှည့်ရန်သာ ရှိပါတော့သည်။ ပြဿနာဖြစ်လာပါက ကုစားကယ်တင်၍ မရအောင် ဖြစ်တတ်သည်။

"အာကာထွန်းခေါင်"ဟု အမည်ပေးထားသော ကလေးတစ်ယောက်အား ကြုံတွေ့ခဲ့ရဘူးသည်။ မကြာခဏ အမြင့်မှကျ၊ ခြေကျိုး၊ လက်ကျိုး၊ ထိပ်ပေါက်၊ ခေါင်းကွဲ ဖြစ်ခဲ့ဖူးပြီး၊ ခြေထောက်လေးများ

သိမ်သွားကာ ပိုလီယိုဖြစ်မှု ကြုံတွေ့ခဲ့ရခြင်းဖြစ်သည်။ ယင်းအခြေအနေ အထိဖြစ်သွားခြင်းအား ပြန်လည်ကောင်းမွန်ရန် မပြုပြင်၍ မရတော့သော်လည်း နောင်တွင် ထိခိုက် အနာတရ မဖြစ်စေရန်ကား နာမည်ကို ပြင်ပေးခဲ့ရပါသည်။ အခြား ဥပမာဖြစ်ရပ်များစွာရှိပါသေးသည်။ နာမည်ကြောင့် အိမ်ထောင်ဆက်များခြင်း၊ အိမ်ထောင်ဘက်၏ နှိပ်စက်မှုခံရခြင်း၊ မကြာခဏ ထိခိုက်ရှနာခြင်း၊ ဥပဒ္ဒေကကျံ ကြုံရခြင်း စသည်ဖြင့် ဖြစ်သည်။

ဥပမာ - တင်တင် အမည်ရှင်သည် အသားညိုမည်၊ လုံကြီးပေါက်လှ စကားပြောသွက်မည်။ အိမ်ထောင်ရေး ဖောက်ပြန်တတ်၊ အိမ်ထောင်ဆက်များတတ်မည်။ ဇော်မင်း - အသားဖြူ အရပ်မြင့်၊ မပိန်မဝ၊ မျက်နှာဝိုင်း၊ စကားပြောချို အချစ်ရေးရှုပ်မည်၊ အိမ်ထောင်ဆက်များမည်။ အိမ်ထောင်ရေးဖောက်ပြန်မည် စသည်ဖြင့် နာမည်သိရုံနှင့် ဟောနိုင်သော အချက်များ ဆန်းကျမ်းဗေဒင်ပညာ၌ ရှိပါ၏။

ယခုကျမ်းမှာ နာမည်ပေးကျမ်းဖြစ်၍ အခြေခံသိသင့်သော အချက်များမှ စတင်၍ နာမည်ပေးနည်းကို ဖွင့်ဆိုပြသွားပါတော့မည်။

## မဟာဘုတ်ဇာတာခွင်အကြောင်း

နာမည်ပေးရန်အတွက် အဓိကအချက်အချာကျသော အရာမှာ မဟာဘုတ် ဖွားဇာတာခွင်ဖြစ်သည်။ မြန်မာအမည်သာမက တရုတ်၊ ကုလား၊ အင်္ဂလိပ် စသည်တို့၏ အမည်များတွင် အသံရှိသည်သာ။ အသံရှိလျှင် မြန်မာအက္ခရာဖြင့် ယင်းအသံကို ဖော်ထုတ်၍ ရပေသည်။ ယင်းသို့ နာမည်၏ အက္ခရာရရှိလျှင် မဟာဘုတ်ဇာတာခွင်၌ ယင်းအက္ခရာများ၏ ကိုယ်စားပြုဂြိုဟ်များ၏ အရပ်အတည်ကိုကြည့်၍ အကောင်း အဆိုးကို ကြည့်ရှု၍ ရနိုင်ပေသည်။

အောင်မြင့်ဖြစ်စေ၊ အိုဘားမားဖြစ်စေ၊ ဆိုနီယာဂန္ဒီဖြစ်စေ၊ မြန်မာ အက္ခရာများဖြင့် အသံဖလှယ်ကာ အက္ခရာများ ရရှိပေသည်။ ယင်းအက္ခရာများ၏ သက်ဆိုင်ရာဂြိုဟ်များကို မဟာဘုတ်ဖွားဇာတာတွင် ကြည့်ရှုစိစစ်ဝေဖန်၍ရပေသည်။

သို့ဖြစ်ပါ၍ မဟာဘုတ်ဇာတာကို ဦးဆုံး တွက်ချက် ရယူပြီးမှ ဂြိုဟ်ဆိုးဂြိုဟ်ကောင်း(ဝါ) နိမ့်သောဂြိုဟ် မြင့်သောဂြိုဟ်နှင့် ပက္ခဂြိုဟ်များ (ပဋိပက္ခဖြစ်သောဂြိုဟ်များ)ကို ဆုံးဖြတ်ရှာယူပေးရမည်။ မဟာဘုတ်သည် မူလနိယာမကိန်းများကို ဖန်တီးဖြစ်ပေါ်စေနိုင်သည့် အားအကြီးဆုံးအရာ ဖြစ်သည်။

## မဟာဘုတ်ဇာတာအား တွက်ချက်ချယူခြင်း

မဟာဘုတ်ဇာတာ တစ်စောင်အား တွက်ချက်၍ ချယူခြင်းမှာ မြန်မာများအတွက် ခက်ခဲလှသော အရာကားမဟုတ်ပါချေ။ ဗေဒင်ပညာ ဗဟုသုတရှိသူများအနေနှင့် အပေါင်း၊ အနုတ်၊ အမြှောက်၊ အစားလောက် သိရုံနှင့် လွယ်ကူစွာ တွက်ချက်၍ ချယူနိုင်ပါသည်။ မွေးဖွားသောမြန်မာ သက္ကရာဇ် အရှည်ကိုတည်၊ (၇)နှင့်စား၍ အကြွင်းကို "အောင်၊ လံ၊ ထူ၊ စစ်၊ သူ၊ ကြီး၊ ပွဲ" ဟူသည့် စတုရန်လက်ဖြင့် ချယူရလေသည်။

ဥပမာ ၁၃၆၀ ပြည့်နှစ်တွင် မွေးသည့်သူအတွက် မဟာဘုတ် ဇာတာ ချယူပြပါမည်။

၇) ၁၃၆၀ ( ၁၉၄

```
  ၇
------
  ၆၆
  ၆၃
------
  ၃၀
  ၂၈
------
  ၂- ကြွင်း
```




"ကြီး၊ ပွဲ၊ အောင်၊ လံ၊ ထူ၊ စစ်၊ သူ"ဟု မြားပြချက်အတိုင်း ရေးချယူပါက (၂) ကြွင်း မဟာဘုတ်ဖွားဇာတာကို အောက်ပါအတိုင်းရရှိပါသည်။

| | | |
|---|---|---|
| | ဖြ | |
| ၁ | ၄ | ၀ |
| ၅ | ၂ | ၇ |

ပုံ(က)
၂-ကြွင်းဇယား

| | | |
|---|---|---|
| | အဓိပတိ | |
| အထွန်း | သိုက် | ရာဇ |
| မရဏ | ဘင်္ဂ | ပုတိ |

ပုံ(ခ)
မဟာဘုတ်အိမ်အမည်

အထက်ပါ ၂ ကြွင်း မဟာဘုတ် ဇာတာရှင်မှာ တနင်္ဂနွေသား ဖြစ်ပါက ပုံ (က) နှင့် (ခ) တို့အရ နှိုင်းယှဉ်ကြည့်လျှင် အထွန်းအိမ်၌ မွေးနံ့ရှိ၍ အထွန်းဖွားဟုခေါ်ရပါသည်။

မဟာဘုတ် ဇာတာများကို အကြွင်းအလိုက် ဖော်ပြရသော် အောက်ပါအတိုင်း ရရှိပါမည်။

| | | |
|---|---|---|
| | ၅ | |
| ၀ | ၃ | ၆ |
| ၄ | ၁ | ၂ |

(၁)ကြွင်း မဟာဘုတ်ဇာတာ

| | | |
|---|---|---|
| | ၀ | |
| ၂ | ၅ | ၁ |
| ၆ | ၃ | ၄ |

(၃)ကြွင်း မဟာဘုတ်ဇာတာ

| | | |
|---|---|---|
| | ၁ | |
| ၃ | ၆ | ၂ |
| ၀ | ၄ | ၅ |

(၄)ကြွင်း မဟာဘုတ်ဇာတာ

| | | |
|---|---|---|
| | ၂ | |
| ၄ | ၀ | ၃ |
| ၁ | ၅ | ၆ |

(၅)ကြွင်း မဟာဘုတ်ဇာတာ

| | | |
|---|---|---|
| | ၃ | |
| ၅ | ၁ | ၄ |
| ၂ | ၆ | ၀ |

(၆)ကြွင်း မဟာဘုတ်ဇာတာ

| | | |
|---|---|---|
| | ၄ | |
| ၆ | ၂ | ၅ |
| ၃ | ၀ | ၁ |

(၀)ကြွင်း မဟာဘုတ်ဇာတာ

## ဂြိုဟ်ကောင်း ဂြိုဟ်ဆိုးနှင့် သောမ၊ ပါပသဘောများ

အထက်ပါ မဟာဘုတ် ဇာတာတစ်စောင်တွင် အောက်ဆုံးတန်းရှိ "ပုတိ၊ ဘင်္ဂ၊ မရဏ"ရှိ ဂြိုဟ်များကို ဂြိုဟ်ဆိုးများ (ဝါ) နိမ့်သောဂြိုဟ်များဟုဆိုရမည်။ "အထွန်း၊ သိုက်၊ ရာဇ၊ အဓိပတိ"ရှိ ဂြိုဟ်များကိုကား ဂြိုဟ်ကောင်း(ဝါ) မြင့်သောဂြိုဟ်များဟု ဆိုရမည်။ ဤနေရာတွင် ဂြိုဟ်ဆိုးများ ဂြိုဟ်ကောင်းများကို "သောမဂြိုဟ်များ၊ ပါပဂြိုဟ်များ"နှင့် မရောထွေး

ကောင်း၊ ဆိုး (ဝါ) သွားစေလိုပါ။ ရပ်တည်ကျရောက်သော ဌာနအလိုက် ကောင်း၊ ဆိုး (ဝါ) မြင့်၊ နိမ့်ကို သတ်မှတ်ပေးထားခြင်းဖြစ်ပါသည်။ ဤနာမည်ပေးနည်းကျမ်းတွင် သောမဂြိုဟ်၊ ပါပဂြိုဟ်များကို သောမဂြိုလ်များ၊ ပါပဂြိုဟ်များဟုသာ သုံးနှုန်းဖော်ပြသွားပါမည်။ ဌာနကောင်းတွင် ရပ်တည်လျှင် ဂြိုဟ်ကောင်း၊ ဌာနဆိုးများတွင် ရပ်တည်လျှင် ဂြိုဟ်ဆိုးများဟု အသုံးပြု ဖော်ပြပေးသွားပါမည်။ ပါပဂြိုလ်နေ့သားဖြစ်၍ ဆိုးသည်။ သောမဂြိုဟ်နေ့သားဖြစ်၍ ကောင်းသည်ဟူသော ပုံသေအသုံးပြုပုံမျိုးကို ဤကျမ်း၌ အသုံးပြုဖော်ပြမည်မဟုတ်ပါချေ။

ဤနေရာ၌ သောမ၊ ပါပဂြိုဟ်များကို သိရန်လိုလာချေပြီ။ တနင်္လာ၊ ဗုဒ္ဓဟူး၊ ကြာသပတေး၊ သောကြာဂြိုလ်များ"ကို သောမဂြိုဟ်များဟုခေါ်ပြီး၊ "တနင်္ဂနွေ၊ အင်္ဂါ၊ စနေ၊ ရာဟုဂြိုဟ်များ"ကို ပါပဂြိုဟ်များဟု ခေါ်ပါသည်။ ဗုဒ္ဓဟူးနေ့တွင် နေ့လည် ၁၂:၀၀ နာရီမတိုင်မီမွေးလျှင် ဗုဒ္ဓဟူးသား၊ သမီးအဖြစ် ယူရပြီး၊ နေ့လည် ၁၂:၀၀ နာရီနောက်ပိုင်း (မွန်းတည့်အပြီး) မွေးသူကို ရာဟုသား၊ သမီးအဖြစ် ယူရပါသည်။ ဤအချက်မှာ အရေးကြီး၍ အထူးမှတ်သားထားရန်ဖြစ်ပါသည်။

## ပက္ခဂြိုဟ်များ

ဆန်းကျမ်းဗေဒင်ပညာတွင် မဟာဘုတ် ဇာတာခွင်ရှိ ဌာနအချင်းချင်း တွင် တွဲစပ်၍ ပြဿနာပေါ်စေမည်။ ပဋိပက္ခသဘောဆောင်သည့် ဂြိုဟ် များကို ရပ်တည်သော အိမ်အလိုက် အသုံးပြုသော ပညာခန်းရှိပါသည်။ ယင်းဂြိုဟ်များကို "ပက္ခဂြိုဟ်များ" ဟုခေါ်ပါသည်။ ယင်းမတွဲကောင်းသော ဂြိုဟ်များတွဲ၍ နာမည်မှည့်ခေါ်ပါက ဘေးထွက်ဆိုးကျိုးပေါ်ကာ ပြဿနာများ ကြုံတွေ့ဖြစ်ပေါ်စေတတ်သည်။ လွယ်လွယ်ပြောလျှင် "ခိုက် စေတတ်သည်"ဟု ဆိုရပေမည်။




အထက်ပါ မဟာဘုတ်အိမ်များ၏ မြားပြချက်များကို ကြည့်၍ ပက္ခ ဂြိုဟ်များကို လွယ်ကူစွာ ဆုံးဖြတ်ပေးနိုင်ပါသည်။

သို့ဖြစ်၍

* အထွန်းနှင့်ပုတိ ပက္ခမတွဲရ။
* သိုက်နှင့်ရာဇ ပက္ခမတွဲရ
* အဓိပတိနှင့် မရဏ ပက္ခမတွဲရ။
* ဘင်္ဂနှင့်ဘင်္ဂ ပက္ခမတွဲရ။

ဤနေရာတွင် မဟာဘုတ်ဗေဒင်ပညာသက်သက်ဖြင့် နာမည်ပေးပါက ဣဋ္ဌ (အကောင်း)ဌာနများချည်းဖြစ်သော "သိုက်နှင့် ရာဇ"ကို တွဲ၍ပေးမိပေမည်။ ဆန်းကျမ်းဗေဒင်ပညာအရကား ယင်းဌာနနှစ်ခု ပဋိပက္ခသဘောဆောင်၍ ယင်းဌာနများရှိ ဂြိုလ်များအချင်းချင်း ပက္ခဖြစ်သောကြောင့် "တွဲ၍ အမည်မမှည့်ရ" ပါချေ။ ဤအချက်ကို အထူးသတိချပ်ရပါမည်။

ပက္ခဂြိုဟ်များအချင်းချင်း နာမည်အစ အဆုံးထား၍ တွဲမှည့်မိပါက ဘဝတွင် အနှောက်အယှက်ဘေးရန်မကင်းခြင်း(ပေါ်များခြင်း)၊ ဘဝကံ အကျိုးပေးမကောင်းသည်များ အတွေ့ရများတတ်ခြင်း၊ ဘာလုပ်လုပ် အဟန့်အတား အနှောက်အယှက်များနှင့် ကြုံတွေ့ရတတ်ခြင်းတို့ဖြစ်ရတတ်ပါသည်။

ဥပမာ - မဟာဘုတ် ၂ ကြွင်း ဇာတာဖြင့် ဖော်ပြပေးပါမည်။




(၂) ကြွင်းဇာတာ

အထွန်းနှင့် ပုတိ၊ ပက္ခ အောင်စိုး၊ စိုးအောင်၊ အမည်မျိုး မမှည့်အပ်ပါချေ။

သိုက်နှင့်ရာဇ ပက္ခ လှထွန်း၊ ထွန်းလှ အမည်မျိုး မမှည့်အပ်ပါချေ။

အဓိပတိနှင့်မရဏ၊ ပက္ခ မြင့်သိန်း၊ သိန်းမြင့် အမည်မျိုး မမှည့်အပ်ပါချေ။

ဘင်္ဂနှင့် ဘင်္ဂ၊ ပက္ခ ကျော်ကျော်၊ ခိုင်ခိုင်ဟူသော အမည်မျိုး မမှည့်အပ်ပါချေ။

ကျန်အကြွင်း ဇာတာများအတွက်လည်း ဤအတိုင်း စိစစ်ရမည်။ ဆိုင်ရာ အကြွင်းဇာတာရှင်များ အလိုက် နာမည်ပေးခြင်းကို ဖော်ပြရာ၌ အကျယ်တဝင့် ဖော်ပြပေးပါဦးမည်။

နာမည်အစနှင့်အဆုံးဟု ရှေ့တွင်ဆိုခဲ့ပါသည်။ သို့ဖြစ်၍ နာမည် (၂)လုံးထက်ပို၍ (၃)လုံး (၄)လုံး စသည်ဖြင့် ရှိခဲ့လျှင် နာမည်အစလုံးနှင့် အဆုံးလုံးတို့ ပက္ခမဖြစ်အောင် စိစစ်ရှောင်ရှားပေးရမည်။ ယင်းသို့ ပက္ခမိသော အမည်မျိုး မှည့်မိပါက နာမည်ရှင်သည် မည်မျှပင် လုံ့လ၊ ဝီရိယ၊ အရည်အချင်းတို့ ပြည့်စုံအားကောင်းပါစေ၊ ကြိုးစားသလောက် အောင်မြင်တိုးတက်မှုကို မခံစားရတတ်တော့ပါချေ။ ဘဝတွင် အလိုဆန္ဒရှိသလောက်

ကြိုးစားရင်၊ မလိုလားအပ်သည်များကို မမျှော်လင့်ပဲ တွေ့ကြုံခံစားရကာ လှေလှော်ရင်၊ တက်ကျိုးဆိုသကဲ့သို့ အပျက်တရားများနှင့် ကြုံတွေ့ရတတ်ပေသည်။

နာမည်တွင် ပက္ခကြုံနေသည့်အပြင် ဂြိုဟ်စား (ဂြိုဟ်အိမ်) သက်ရောက်၊ ဓကာဇာ၊ အနေအထားတို့ ချွတ်ယွင်းပျက်ပြားမှု ကြုံရပါက ရေနစ်သူ ဝါးကူ၍နှစ် ဆိုသကဲ့သို့ ဆထက်ထမ်းပိုး ပို၍ဆိုးသည့် အဖြစ်မျိုးနှင့်ကြုံရတတ်လေသည်။

## နာမက္ခရတိုင်

မဟာဘုတ်ဇာတာချယူရာတွင် မွေးသက္ကရာဇ်ကို (၇)ဖြင့်စား၍ အကြွင်း တွင် (၁)ထပ်နှုတ်ကာ အောက်ဖော်ပြပါအတိုင်း တိုင်ထိပ်ဆုံး၌ ရသော ဂဏန်းကို ထား၍ ချယူရသည်။

ဥပမာ - မွေးသက္ကရာဇ်ကို (၇)ဖြင့် စား၍ (၂)ကြွင်းပါက (၁) ထပ်နုတ်လျှင် (၁)ကျန်ပေမည်။ ယင်း(၁)ကို နာမက္ခရတိုင်တွင် ထိပ်ဆုံးမှ ရေး၍ အောက်ပါအတိုင်း ချယူရ၏။




(၂) ကြွင်း နာမက္ခရတိုင်

အထက်ပုံအတိုင်း တိုင်ထိပ်တွင် (၁)ရေး၍ တိုင်ခြေ လက်ယာဘက်တွင် (၂)ရေးကာ၊ (၃)၊ (၄)၊ (၅)၊ (၆)၊ (၀)၊ တို့ကို မြားပြချက်အတိုင်း ဇစ်ဇက်ရေး၍ အပေါ်သို့ တက်ရေးသွားရသည်။

နာမည်ပေးရာ၌ ယင်းနာမက္ခရတိုင်သည် အရေးကြီး၏။ ဆန်းကျမ်း

ဗေဒင်ပညာတွင် နာမည်အစလုံးကို ယူပြီးနောက် နာမည်အဆုံးလုံးသည် ယင်းနာမက္ခရတိုင်တွင် ဇောက်ထိုးပြောင်းပြန်မသွားရပါချေ။ နာမက္ခရတိုင်စဉ်အပေါ်သို့ တက်သွားရသကဲ့သို့ အပေါ်သို့သာ မြှားပြချက်အတိုင်း တက်၍ ယူသွားရမည်။ အပေါ်သို့တက်ရန် မဖြစ်နိုင်လျှင် ဥပမာ အထက်ပါ (၂)ကြွင်း နာမက္ခရတိုင်တွင် "တနင်္ဂနွေနံ" (၁)နှင့် စမှည့်ခေါ်လိုပါက "၁" (တနင်္ဂနွေနံ)ဖြင့်သာ အဆုံးသပ်၍ မှည့်ခေါ်ပေးရမည်။

အောင်အောင်၊ အောင်ထက်အောင် စသည်ဖြင့် မှည့်ခေါ်နိုင်၏။ နာမည် အစနှင့်အဆုံးကို ပြောင်းပြန် ပြန်မထားမိရန် အထူးသတိပြုရမည်။ အထက်ပါ နာမက္ခရတိုင်၌ အောင်ထွန်းဟု မှည့်လျှင်ပင် ပြောင်းပြန်ဖြစ်၍ "တိုင်စဉ်ဇောက်ထိုး" ဖြစ်သွားရပေတော့သည်။

နာမည် အစအဆုံး ပက္ခမိခြင်းနှင့် တိုင်စဉ်ဇောက်ထိုးမိခြင်းပါ ကြုံလျှင် ဆိုးဝါးချက် နှစ်ချက်ဆင့်၍ နှစ်ထပ်ကွမ်း ဆိုးပေတော့မည်။ ဘဝတွင် ဘေးဆိုး၊ အန္တရာယ်ဆိုးများ ကျရောက်တတ်ကာ သွေးထွက်သံယိုနှင့် ဥပဒ္ဒေဒကက်များ ဆိုးဝါးစွာ ကြုံတွေ့ရစေတတ်ပါသည်။ အထူးသတိထားရမည့် အချက်ဖြစ်သည်။

မဟာဘုတ် ဇာတာပက္ခနှင့် နာမက္ခရတိုင်စဉ်တို့သည် နာမည်၏ အကောင်း အဆိုးတွင် သက်ရောက်မှုကြီးမားလွန်း၍ ယင်းအချက်များကို အခန်း(၁)တွင် ရှေးဦးစွာ သိမှတ်ဖွယ်ရာများအဖြစ် ဦးစားပေး၍ ဖော်ပြပေးလိုက်ရခြင်းဖြစ်ပါသည်။

## အခန်း(၂)

# ဗျဥ္စနသုဒ္ဓိဆန်း

ဗျဥ္စနသုဒ္ဓိဆန်းမှာ အက္ခရာဝဏ္ဏ၊ ဗျည်း၊ သရတို့အကြောင်း အသေးစိတ် ဝေဖန်စိစစ်ရသော ပညာခန်းဖြစ်၏။

ယခုခေတ်တွင် ဗေဒင်ပညာဖြင့် အသက်မွေးဝမ်းကျောင်း ပြုရသူ ကျွန်ုပ်တို့လို ပညာရှင်များအတွက် စိတ်ပျက်ဖွယ် ကြုံတွေ့ရသော ကိစ္စရပ်ကြီးတစ်ခု တွင်ကျယ်နေသည်။ ယင်းမှာ နာမည်ပေးခြင်းကို ပေါ့ဆစွာ သဘောထားသော ခေတ်လူနေမှုပုံစံအရ ဖြစ်၏။ ရှေးထုံးကို မပယ်နိုင်၍ (ဝါ) မပယ်ရဲ၍ ဗေဒင်ပညာရှင်ထံ နာမည်လာရောက်ပေးရာ၌ မည်သည့် နေ့နံများ တွဲစပ်ပေးရမည်ဟုသာ အကြံပေးပါဟု တောင်းဆိုကြ၏။ ထို နေ့နံများကို ယူကာ ဇာတ်ကောင်နာမည်လှလှဖြင့် စာရေးသော စာရေး ဆရာများထံ ယင်းနေ့နံများဖြင့် နာမည်လှလှပေးခိုင်းခြင်းဖြစ်၏။ နေ့နံ သင့်လျှင် ပြီးရောဟူသော သဘောဖြစ်၏။

ဗျဥ္စနသုဒ္ဓိဆန်းအရ ဖို၊ မ၊ ဝဏ္ဏ၊ ဒြပ်၊ ဖြုဗ္ဗာဒ်၊ သံတို၊ သံရှည် စသည်တို့မှာကား ပြဿနာပေါ် ရပေတော့သည်။ ယင်းအခါ တရားခံက ဆိုင်ရာနံသင့်ကို ရွေးပေးလိုက်သော ဗေဒင်ဆရာ ဖြစ်သွားရပေတော့ သည်။ တရားခံအမှန်ကား နာမည်လှလှဆန်းဆန်းကို လိုချင်သော မိဘ များနှင့်နာမည်လှလှ ဆန်းဆန်းပေးတတ်သော စာရေးဆရာ (ဝတ္ထုရေး ဆရာ)တို့သာ ဖြစ်ချေ၏။

တနင်္ဂနွေသားကို သာမန်လူလတ်တန်းစားအား "မင်းသွေးခန့်" ဟု နာမည်ကျော် ဂမ္ဘီရပေဒဝတ္ထုရေးဆရာကြီးတစ်ဦးမှ အမည်ပေးခဲ့ဖူး၏။ ရောဂါဘယ ထူပြောချူချာကာ မကြာခဏ ထိခိုက်အနာတရ ဖြစ်နေ၍ စာရေးသူထံ နာမည်ကိုလာရောက်ဆွေးနွေးခဲ့သည်။ နာမည်ပြင်ပေးလိုက်မှ ကျန်းမာရေးကောင်းကာ ထိခိုက်မှုနည်းပါးသွားတော့သည်။ နောက် ပညာရေးတွင် ပိုမိုထူးချွန်လာကြောင်းလည်း လာရောက်ပြောကြားသွားခဲ့သည်။ တိုင်းစဉ်မှား၍ ဖြစ္စဒ်ဗ (နာမည်အဓိပ္ပါယ်) မှားခြင်းပေတည်း။ ယင်းနာမည်မျိုးမှာ နံသင့်တွဲတတ်ရုံနှင့် အမည်ပေးခြင်း၏ ထိခိုက်မှု၊ ဘေးထွက်ဆိုးကျိုးဖြစ်တတ်ပါသည်။

သို့ဖြစ်ပါ၍ နာမည်ပေးရာတွင် အက္ခရာ ဝဏ္ဏ၊ ဗျည်း၊ သရများကို ဂဃနဏ သိရှိစေရန် ဗျဥ္စနသုဒ္ဓိဆန်းလာ ဗျည်း၊ သရတို့အကြောင်း အသေးစိတ်ဖော်ပြပေးသွားပါမည်။ ဂရုတစိုက် ဖတ်ရှုလေ့လာကြပါလေ။

### ဝဏ္ဏ (ဝါ) ဗျည်း (ဝါ) အက္ခရာ

ဝဏ္ဏ (ဝါ) ဗျည်း (ဝါ) အက္ခရာများမှာ ဗျည်း (၃၃)လုံးဟု အသိများကြသော (က)မှ(အ)အထိ အက္ခရာ (၃၃)လုံးဖြစ်ပါသည်။ ယင်းတို့မှာ ငါးလုံးအုပ်စုများအနေဖြင့် (၅)တွဲ၊ (၄)လုံးအုပ်စု (၂)တွဲ၊ ပေါင်း (၃၃)လုံး ရှိပါသည်။ အောက်ပါအတိုင်းဖြစ်ပါသည်။

က၊ ခ၊ ဂ၊ ဃ၊ င။

စ၊ ဆ၊ ဇ၊ ဈ၊ ည။

ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ။

တ၊ ထ၊ ဒ၊ ဓ၊ န။

ပ၊ ဖ၊ ဗ၊ ဘ၊ မ။

ယ၊ ရ၊ လ၊ ဝ။

သ၊ ဟ၊ ဠ၊ အ။

ယင်းတို့ကို ဝဏ္ဏဟူ၍လည်းကောင်း၊ ဗျည်းဟူ၍လည်းကောင်း၊ အက္ခရာဟူ၍လည်းကောင်း ခေါ်ဝေါ် သတ်မှတ်ပါသည်။

ယင်းဗျည်း (၃၃) လုံးတို့သည် သရများကို မှီမှသာ အသံထွက်နိုင်ကြပေသည်။ သို့ဖြစ်၍ သရများကို သိရှိရန်လိုလာပါသည်။

## သရ (၁၄) လုံး

လူအသိများကြသည်မှာ သရ (၈) လုံးဟူ၍ "အ၊ အာ၊ ဣ၊ ဤ၊ ဥ၊ ဦ၊ ဧ၊ ဩ" ဟူ၍ ဖြစ်သည်။ အသေးစိတ်လေ့လာပါလျှင် "အဲ၊ ဪ၊ (ဪ)၊ အံ၊ အား၊ အို၊ အုံ" ဟူသော (၆) လုံး ရှိသေး၍ စုစုပေါင်း သရ (၁၄) လုံး ရှိပါသည်။ ယင်းသရများသည် မိမိတို့ဖာသာ အသံထွက်နိုင်ကြ ပါသည်။

သရများကို သံတိုသရ (ရဿ သရ)နှင့် သံရှည်သရ (ဒီဃ သရ) ဟူ၍ ထပ်မံခွဲခြားမှု ပြုထားပါသည်။

## သံတိုသရ (၃) လုံး

အသံတိုတောင်းစွာထွက်၍ (၁) မတြာသံသာရှိသော သရများ ဖြစ်သည်။ "အ၊ ဣ၊ ဥ" ဟူ၍ (၃)လုံးရှိပါသည်။ နွားနို့တစ်ညှစ် လက်ဖျစ် တစ်တွတ်မျှသာကြာအောင် အသံထွက်၍ ဖြစ်သည်။

## သံရှည်သရ (၁၁) လုံး

"အာ၊ ဣ၊ ဦ၊ ဧ၊ အဲ၊ ဩ၊ ဪ (ဪ)၊ အံ၊ အား၊ အို၊ အုံ" ဟူသော သရ (၁၁)လုံးမှာ နှစ်မတြာသံဖြစ်၍ သံတိုသရထက် နှစ်ဆကြာ သောကြောင့် သံရှည်သရဟုခေါ်ရသည်။ လက်ဖျစ်နှစ်တွတ် နွားနို့နှစ်ညှစ် အချိန်မျှကြာအောင် အသံထွက်ရသောကြောင့် သံရှည်သရ ဟု ခေါ်ခြင်း ဖြစ်သည်။

<u>သိမှတ်ရန်</u>

(က) အစ (အ) အဆုံး ဗျည်း (၃၃) လုံးတို့သည် သက်သက် သောအခါ မတြာကွဲသာ အသံရှိလေသည်။ လက်ဖျစ်တစ်တွတ်၏ တစ်ဝက်မျှသာ ကြာအောင် အသံထွက်ရသည်။ သံတိုသရနှင့် တွဲပါက

တစ်မတြာခဲ့ သံရှည်သရနှင့်တွဲပါက နှစ်မတြာခဲ့ အသံထွက်ကြရသည်။

## ဌာန် (၅)ပါး

ဗျည်း (၃၃) လုံးသော အက္ခရာတို့ဖြစ်ပေါ်ရာအရပ်ကို ဌာန်ဟု ခေါ်သည်။ ကဏ္ဌဌာန် (လည်ချောင်းအရပ်)၊ တာလုဌာန် (အာစောက်အရပ်)၊ မုဒ္ဓဌာန် (လျှာထိပ်အရပ်)၊ ဒန္တဌာန် (သွားအရပ်)၊ ဩဋ္ဌဌာန် (နှုတ်ခမ်းအရပ်)၊ မုတ္တကဌာန် (ယင်းတို့မှအလွတ်)ဟူ၍ ဖြစ်သည်။ "လည်၊ အာ၊ လျှာ၊ သွား၊ နှုတ်ခမ်း၊ အလွတ်" ဟူ၍ မြန်မာလို အလွယ်မှတ်ထားရာ၏။

လည်ချောင်းဌာန် (ကဏ္ဌဌာန်) မှာ "က၊ ခ၊ ဂ၊ ဃ၊ င" တို့ ဖြစ်သည်။ လည်ချောင်းမှ အသံဖြစ်ပေါ်လာရသည်။

အာစောက်ဌာန် (တာလုဌာန်) မှာ "စ၊ ဆ၊ ဇ၊ ဈ၊ ည" တို့ဖြစ်သည်။ အာစောက်မှ အသံဖြစ်ပေါ်လာရသည်။

လျှာထိပ်ဌာန် (မုဒ္ဓဌာန်) မှာ "ဋ၊ ဌ၊ ဍ၊ ဎ၊ ဏ" တို့ဖြစ်သည်။ လျှာထိပ်မှ အသံဖြစ်ပေါ်လာရသည်။

သွားဌာန် (ဒန္တဌာန်) မှာ "တ၊ ထ၊ ဒ၊ ဓ၊ န" တို့ဖြစ်သည်။ သွားမှ အသံဖြစ်ပေါ်လာရသည်။

နှုတ်ခမ်းဌာန် (ဩဋ္ဌဌာန်) သည် "ပ၊ ဖ၊ ဗ၊ ဘ၊ မ"တို့ဖြစ်သည်။ နှုတ်ခမ်းမှ အသံဖြစ်ပေါ်လာရသည်။

ကျန်အက္ခရာများမှာ ယင်းအသံထွက်ရာ အရပ်တို့မှ လွတ်၍ မုတ္တကဌာန် (အလွတ်ဌာန်) ဟု ခေါ်ရပါသည်။

## မုတ္တကဌာန်

"ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ"တို့ ဖြစ်သည်။ ဌာန် (၅) ပါးမှ လွတ်၍ မုတ္တဌာန်ဟု ခေါ်ရခြင်းဖြစ်သည်။ စုစုပေါင်း (၈) လုံးရှိသည်။

## မုတ္တကဗျည်း

"ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ၊ အ" ဟူသော (၈) လုံးသောဗျည်းတို့သည် ဌာန် (၅) ပါးမှ လွတ်၍ "မုတ္တကဗျည်း"ဟု ခေါ်၏။

## ဃောသ

ဗျည်း (၃၃)လုံးတို့ရှိရာတွင် အသံပြင်းပြင်းနှင့် ရွတ်ရသောဗျည်း (၂၁) လုံးရှိသည်။ ဂ၊ ဃ၊ င။ ဇ၊ ဈ၊ ည။ ဍ၊ ဎ၊ ဏ။ ဒ၊ ဓ၊ န။ ဗ၊ ဘ၊ မ။ ယ၊ ရ၊ လ၊ ဝ၊ သ၊ ဟ၊ ဠ။ တို့ ဖြစ်ကြ၏။ ယင်းတို့ကို အသံပြင်းပြင်းဖြင့် ရွတ်ဆိုရ၍ "ဃောသ"ဟုခေါ်၏။

## အဃောသ

ဗျည်း (၃၃)လုံးတွင် အထက်ပါဃောသ(၂၁)လုံး နှုတ်၍ ကျန် (၁၂) လုံးတွင် "အ"ကို ဖယ်ကာ၊ (၁၁) လုံးဖြစ်သော က၊ ခ။ စ၊ ဆ။ ဋ၊ ဌ။ တ၊ ထ။ ပ၊ ဖ၊ သ။ တို့ကိုအသံပျော့ပျော့ ရွတ်ရ၍ "အဃောသ"ဟု ခေါ်၏။

## သိထိလ

ဗျည်း (၃၃)လုံးတို့တွင် က၊ ဂ၊ င။ စ၊ ဇ၊ ည။ ဋ၊ ဍ၊ ဏ။ တ၊ ဒ၊ န။ ပ၊ ဗ၊ မ။ ဟူသော ဗျည်း (၁၅) လုံးတို့သည် ပေါ့ပါးသိမ်မွေ့စွာ ရွတ်ဆို ရ၍ "သိထိလ"ဟုခေါ်၏။

## ဓနိတ

ဗျည်း (၃၃)လုံးတို့တွင် ခ၊ ဃ။ ဆ၊ ဈ။ ဌ၊ ပ။ ထ၊ ဓ။ ဖ၊ ဘ။ စသည့် ဗျည်း (၁၀) လုံးတို့သည် အေးဆေးကြမ်းတမ်းစွာ ရွတ်ဆို၍ "ဓနိတ" ဟုခေါ်၏။

**အထူးမှတ်ချက်**

ဗျဥ္စနသုဒ္ဓိဆန်းတွင် ဗျည်းအက္ခရာတို့ကို စင်ကြယ်စွာ ကဏ္ဍ (၆)ရပ်တို့ဖြင့် ဝေဖန်ဖော်ပြထားသည်။

(၁) ဗျည်းအက္ခရာများ၊ (၂) သရ၊ (၃) ရဿ၊ (၄) ဒီဃ၊ (၅) ဌာန်၊ (၆) ဃောသ၊ (၇) အဃောသ၊ (၈) သိထိလ၊ (၉) ဓနိတ ဟူ၍ဖြစ်သည်။ ယင်းကဏ္ဍ (၉)ခုတို့၏ အနက်အဓိပ္ပါယ်တို့ကို ပိုင်နိုင်သေချာစွာ သိရှိပါက မည်သည့်အကြောင်းကိစ္စတွင်မဆို နာမည်ကို ကြားသိကာမျှဖြင့် ကောင်းဆိုးနှစ်ထွေ ဟူသော သုဘာ-သုဘတို့ကို တိကျမှန်ကန်စွာ ဝေဖန် သုံးသပ်ဟောကြားနိုင်၍ နာမည်မှည့်ရုံမျှမက "နာမည်ကို ဝေဖန်ဟော ကြားနိုင်လိုသူများ အထူးဂရုပြု၍ သိမှတ်ထားရပေမည်။"

### ယောဇနာ (၃)ပါး

ဗျည်း (၃၃) လုံးတို့အား အပိုင်း(၃) ပိုင်း (ဝါ) ကဏ္ဍ (၃) ရပ်ဖြင့် ခွဲခြားထားခြင်းကို ယောဇနာ (၃) ပါးဟု ခေါ်သည်။

ယင်းအတွက် အောက်ပါဇယားဖြင့် "ဥပရ၊ မဇ္ဈ၊ ဟေဋ္ဌ" ဟူ၍ ယောဇနာ (၃) ပါး ကို မှတ်ယူရပါသည်။

| ဥပရ | မဇ္ဈ | ဟေဋ္ဌ |
|---|---|---|
| က၊ ခ | ဂ | ဃ၊ င |
| စ၊ ဆ | ဇ | ဈ၊ ည |
| ဋ၊ ဌ | ဍ | ဎ၊ ဏ |
| တ၊ ထ | ဒ | ဓ၊ န |
| ပ၊ ဖ | ဗ | ဘ၊ မ |
| ယ၊ ရ | - | လ၊ ဝ |
| သ | - | ဟ |
| | ဠ | |
| | အ | |

"က၊ ခ၊ စ၊ ဆ၊ ဋ၊ ဌ၊ တ၊ ထ၊ ပ၊ ဖ၊ ယ၊ ရ၊ သ" စသည့် ဗျည်း (၁၃) လုံးတို့ကို "ဥပရ" အက္ခရာများဟုခေါ်၏။

"ဂ၊ ဇ၊ ဍ၊ ဒ၊ ဗ၊ ဠ၊ အ" အက္ခရာ (၇) လုံးတို့ကို "မဇ္ဈ" အက္ခရာများဟု ခေါ်၏။

"ဃ၊ င၊ ဈ၊ ည၊ ဎ၊ ဏ၊ ဓ၊ န၊ ဘ၊ မ၊ လ၊ ဝ၊ ဟ" အက္ခရာ (၁၃) လုံးတို့ကို "ဃောဋ္ဌ"အက္ခရာများဟု ခေါ်၏။

## ဗျဉ္ဇနဒေါသ

ယင်း (၃၃)လုံးသော ဗျည်းတို့ကို "ဥပရ၊ မဇ္ဈ၊ ဃောဋ္ဌ" ဟူ၍ (၃)ပိုင်းခွဲထားရာတွင် ရှေ့ဆုံးရှိ "ဥပရဗျည်း" များနှင့် နောက်ဆုံးရှိ "ဃောဋ္ဌ" ဗျည်းများသည် ဗျည်းအချင်းချင်း ရန်ဖြစ်ကြ၍ ယင်းတို့ တွဲစပ်ခြင်းကို "ဗျဉ္ဇနဒေါသ"သင့်သည်ဟု ခေါ်ပါသည်။

အလယ်ရှိ "မဇ္ဈ" ဗျည်းများသည် ဥပရဗျည်းများနှင့် ယှဉ်စပ်လျှင် အကျွမ်းတဝင် (သင့်မြတ်) ၍ ထက်သောဂုဏ်၊ မြတ်သောဂုဏ် (တိက္ခ)ရှိသည်ဟု သတ်မှတ်ထားသည်။

ယင်းမဇ္ဈဗျည်းများသည် ဃောဋ္ဌဗျည်းများနှင့် ယှဉ်စပ်လျှင်ကား သင့်မြတ်ကျွမ်းဝင်သော်လည်း နုံ့သောဂုဏ်၊ သေးငယ်သောဂုဏ် (မန္ဒ) ရှိသည်ဟု သတ်မှတ်ထားပါသည်။

## သညာဝိဓာနဆန်း

သညာ နာမည်ကို + ဝိဓာန စီရင်ရာ အခန်းကဏ္ဍကို "သညာဝိဓာနဆန်း" ဟုခေါ်သည်။ နာမည်မှည့်ခြင်း၊ နာမည်ဖြစ်ပေါ်လာခြင်းဟု ဆိုရပေမည်။

<u>မှတ်ချက်</u>

သုဘာ-သုဘ ကောင်းဆိုး နှစ်တန်ဟောကြားရာတွင် "ဝေါဟာရ ဝိညာပနတ္တံ" ဟူသော ပုဒ်အရ ခေါ်ဝေါ်သမုတ်အပ်သော ဝေါဟာရပေါ်တွင်သာ ဆုံးဖြတ်ရမည်ဟု စွဲမြဲစွာ မှတ်ထားရမည်။

နာမည် (၄)မျိုး

"အတ္တော အက္ခရ သညာတော" အနက်အဓိပ္ပါယ်တို့ကို အက္ခရာတို့ဖြင့် သိအပ်၏။

"အတ္တနိ အတ္တံ နာမေတီတိ နာမံ" မိမိ၏ အနက်အဓိပ္ပါယ်သို့ ညွတ်တတ်၍ နာမံ - နာမည်ဟုခေါ်၏။

"နာမည်"ဟု မြန်မာများ ခေါ်ခေါ်နေကြသည်မှာ "နာမံ" မှဖြစ်လာသော ပါဠိပျက် ဝေါဟာရဖြစ်၏။

ထို့ကြောင့် "အဓိပ္ပါယ်ကို သိစေခြင်းသည် နာမည်" ဖြစ်လေသည်။

နာမည် (၄)မျိုးရှိသည်။ အောက်ပါအတိုင်းဖြစ်သည်။

(၁) အန္ဝတ္ထ နာမည်။

(၂) ရုဠ္ဍီ နာမည်။

(၃) သညီ နာမည်။

(၄) သညာ နာမည်။

**(၁) အန္ဝတ္ထနာမည်**

အနက်အဓိပ္ပါယ်သို့ အစဉ်လိုက်သော နာမည်ဖြစ်သည်။ ဆိုလိုသည်မှာ အဓိပ္ပါယ်ရှိရှိ အမည်ပေးခြင်းဖြစ်သည်။

ဥပမာ - ဘုရားအလောင်းတော်မင်းသားငယ်အား "သုဒ္ဓေါဒန" မင်းကြီးက "အလုံးစုံသော ပြီးစီးအောင်မြင်ခြင်း" အဓိပ္ပါယ်ဖြင့် "သဗ္ဗတ္ထသိဒ္ဓိ" (ဝါ) "သိဒ္ဓတ္ထ" ဟု အမည်ပေးခြင်းမျိုးဖြစ်၏။

အစစအရာရာ ပြည့်စုံအောင် "မောင်ပြည့်စုံ" ဟု အမည်ပေးခြင်းမှာလည်း "အန္ဝတ္ထအမည်မျိုး"ဖြစ်သည်။

**(၂) ရုဠ္ဍီအမည်**

အနက်အဓိပ္ပါယ် တစ်ခုပေါ်၌ သက်ရောက် ထင်ရှားစေလို၍ မှည့်ခေါ်သောနာမည်ကို "ရုဠ္ဍီအမည်" ဟုခေါ်၏။ တစ်နည်းအားဖြင့်ဆိုရသော် "လိုရာကိုအစွဲပြု၍ ခေါ်ဝေါ်အပ်သော နာမည်မျိုး" ဖြစ်၏။

ဥပမာ - ရုံးပေါ်တွင်မွေး၍ မောင်ရုံး၊ ပြုံးရယ်စေလို၍ မောင်ပြုံး စသည်ဖြင့် မှည့်ခေါ်ခြင်းမျိုးဖြစ်သည်။

ယင်းတွင် မှည့်ခေါ်ထားသော အမည်နှင့် အနက်အဓိပ္ပါယ် မညီညွတ်လျှင် "ရုဠိနာမည်" ဟုသာ မှတ်ယူရမည်။ "မောင်ချမ်းသာ" ဟု ချမ်းသာစေလို၍ မှည့်ထားစေကာမူ ဆင်းရဲနေခြင်းမျိုးမှာ နာမည်နှင့်မညီညွတ်ပါချေ။ "ရုဠိနာမည်" မျိုးဖြစ်၏။

## (၃) သညီနာမည်

အကြောင်းတစ်စုံတစ်ရာ ရှာ၍မရ မှည့်ခေါ်လို၍ မှည့်ခေါ်အပ်သော နာမည်မျိုးကို "သညီနာမည်"ဟု ခေါ်၏။

ဥပမာ - မောင်ခ၊ မောင်ဘ၊ မောင်စ စသည့်နာမည်မျိုးဖြစ်၏။

## (၄) သညာနာမည်

တူညီသော၊ အကြောင်းတစ်ခုပေါ်စွဲ၍ မှည့်ခေါ်ခြင်းဖြစ်၏။

ဥပမာ - ငယ်ငယ်က ဝဝတုတ်တုတ်နှင့် ဝက်ကလေးနှင့်တူ၍ မောင်ဝက်၊ ဒေါင်းကလေးနှင့်တူ၍ မဒေါင်း၊ ခွေးလေးနှင့်တူ၍ မောင်ခွေး ဟုမှည့်ခေါ်ခြင်းမျိုးဖြစ်၏။

### မိတ်၊ ရန်၊ ဓာတ်၊ ဥဒါသိန်

"မိတ်" ဟူသည်မှာ ဂြိုဟ်အချင်းချင်း သင့်တင့် ညီညွတ်ခြင်း သဘောကို ဆိုလိုပါသည်။ မြတ်နိုးခြင်း၊ ချစ်ခင်ခြင်း၊ နှစ်သက်ခြင်း၊ ညီညွတ်မျှတခြင်း သဘောကို ဆောင်သည်။

"ရန်"ဟူသည်မှာ ဂြိုဟ်အချင်းချင်း မသင့်မတင့်၊ မညီညွတ်ခြင်း သဘောကို ဆိုသည်။ မမြတ်နိုးခြင်း၊ မုန်းခြင်း၊ မနှစ်သက်ခြင်း၊ မညီညွတ်မမျှတခြင်း သဘောကို ဆောင်သည်။

"ဓာတ်" မိမိသဘောကိုသာ ဆောင်ခြင်းကြောင့် ဓာတ်ဟုခေါ်သည်။ ဓာတ်ကြီး (၄)ပါးလုံးမှာ အညမည ဓာတ်သာဖြစ်၏ဟု ရှေးဆန်း

ဆရာကြီးတို့ ယူဆကြ၏။ (အဏ္ဏော၊ ဂဏ္ဍော၊ ဝရေ၊ ဝံသေကို ဆိုလို၏။)

"ဥဒါသိန်" ဆိုသည်မှာ မိတ်သဘောလည်း မဟုတ်၊ ရန်သဘော လည်းမဆောင်၊ မချစ်၊ မမုန်း လျစ်လျူရှုသော အဓိပ္ပါယ်မျိုးကို ဆောင် သည်။

မိတ်တွင် အပြင်မိတ်၊ အတွင်းမိတ် (ခေါ်) အိမ်ထောင်မိတ် ဟူ၍ နှစ်မျိုးရှိ၏။

**အပြင်မိတ်**

"အောင်-ပ၊ ကု-လား၊ ဆွေ-သား၊ နောင်-ရင်း" (၁-၅၊ ၂-၄၊ ၃-၆၊ ၇-၈) ဖြိုဟ်တွဲများကို အပြင်မိတ်ဟုခေါ်သည်။

**အတွင်းမိတ် (ဝါ) အိမ်ထောင်မိတ်**

"ဦး-သာ၊ စိတ်-ပန်း၊ ဒန်း-လှ၊ ကို-ရှာ" (၁-၆၊ ၃-၅၊ ၇-၄၊ ၂-၈)၊ ဖြိုဟ်တွဲများကို အတွင်းမိတ် (ဝါ) အိမ်ထောင်မိတ်ဟု ခေါ်သည်။

"ရန်"တွင်လည်း အပြင်ရန်နှင့် အတွင်းရန် (ဝါ) အိမ်ထောင်ရန် ဟူ၍ ရှိ၏။

**အပြင်ရန်**

"ဦး-ညို၊ ခေ-မာ၊ သု-တ၊ ဝေ-ရီ" (၁-၃၊ ၂-၅၊ ၆-၇၊ ၄-၈) ဖြိုဟ်တွဲများကို အပြင်ရန်ဟုခေါ်သည်။

**အတွင်းရန် (ဝါ) အိမ်ထောင်ရန်**

"ဓ-မ္မာ၊ သော-က၊ အင်း-ဝ၊ ရာ-ဇာ" (၇-၅၊ ၆-၂၊ ၁-၄၊ ၈-၃) ဖြိုဟ်တွဲများကို "အတွင်းရန်" (ဝါ) အိမ်ထောင်ရန် ဟုခေါ်၏။

"ခတ်" တွင် ခတ်နှင့် ခတ်ရန်ဟူ၍ရှိ၏။ ရှေးဆန်းဆရာကြီး များက ခတ်ဖက်အဖြစ် ခတ်ဟုသာသုံး၍ ခတ်မိတ်ဟု မသုံးသည်ကို သတိပြုရာ၏။

**ဓာတ်**

"အ-န္တော၊ ဂ-ဗ္ဗော၊ ဝ-ရော၊ ဝံ-သော" (၁-၇၊ ၂-၅၊ ၃-၈၊ ၄-၆)၊ ပြိုဟ်တွဲများကို ဓာတ်ဟု ခေါ်သည်။

**ဓာတ်ရန်**

"ဦး-ဝေ၊ စံ-ကူး၊ ရေ-ဘူး၊ တော-သူ" (၁-၄၊ ၃-၂၊ ၈-၅၊ ၇-၆) ပြိုဟ်တွဲများကို ဓာတ်ရန်ဟုခေါ်သည်။

**မှတ်ချက်**

* အပြင်မိတ်များကို "ကာလပမာဏမိတ်" ဟုခေါ်ပြီး အတွင်းမိတ်များကို "ဌာနပမာဏမိတ်" ဟုခေါ်သေး၏။

* အပြင်ရန်များကို "ကာလပမာဏရန်" ဟုခေါ်ပြီး၊ အတွင်းရန်များကို "ဌာနပမာဏရန်"ဟုခေါ်သေး၏။

* ဓာတ်ဖက်များတွင် "အ-န္တော၊ စ-ရေ" တို့ကို "ကာလပမာဏဓာတ်"ဟုခေါ်ပြီး၊ "ဂ-ဗ္ဗော၊ ဝံ-သော" တို့ကို "ဌာနပမာဏဓာတ်" ဟုခေါ်၏။

* အပြင်မိတ်များတွင် "အောင်-ပ၊ ဆွေ-သား" တို့သည် "သဟဇာတမိတ်" ဖြစ်၍ "ကု-လား၊ နောင်-ရင်း" တို့သည် "အညမညမိတ်များ" ဖြစ်၏။

* အတွင်းမိတ်များအားလုံးမှာ "သဟဇာတမိတ်"များသာဖြစ်၏။

* ရန်ပြိုဟ်များတွင် အပြင်ရန်များ၌ "သု-တ၊ ဝေ-ရီ" တို့သည် "သဟဇာတရန်" ဖြစ်ပြီး၊ "ဦး-ညို၊ ခေ-မာ" တို့သည် "အညမညရန်" ဖြစ် သည်။

* အတွင်းရန်များတွင် "ဓ-မ္မာ၊ အင်း-ဝ"တို့သည် "သဟဇာတရန်များ" ဖြစ်ပြီး၊ "သော-က၊ ရာ-ဇာ" တို့သည် "အညမညရန်များ" ဖြစ်၏။

* အချင်းချင်းသဘောမတူသည်ကို "သဟဇာတ" ဟုခေါ်ပြီး၊ အချင်းချင်း သဘောတူသည်ကို "အညမည" ဟုခေါ်ခြင်းဖြစ်သည်။

ဥဒါသိန်များ

မိတ်၊ ရန်၊ ခာတ်၊ ခာတ်ရန်တို့တွင် မပါသော ဖြိုက်တွဲများကို ကြားဖြိုက်တွဲအဖြစ် ဥဒါသိန်ဟုခေါ်ခြင်းဖြစ်သည်။ ရှေးဆန်းဆရာကြီးများက ဥဒါသိန်ကို (၁၃)မျိုးအထိ ပြခဲ့ကြသည်။

ယင်းတို့မှာ အောက်ဖော်ပြပါအတိုင်းဖြစ်သည်။

(၁) အာမေဍိတ် ဥဒါသိန်။
(၂) ကာလပဏာမ ဥဒါသိန်။
(၃) ဌာနပမာဏ ဥဒါသိန်။
(၄) သမဘာဂ အာမေဍိတ် ဥဒါသိန်။
(၅) ဝိသမဘာဂ အာမေဍိတ် ဥဒါသိန်။
(၆) သဟဇာတ ဥဒါသိန်။
(၇) အညမည ဥဒါသိန်။
(၈) သမဘာဂ ဥဒါသိန်။
(၉) ဝိသမဘာဂ ဥဒါသိန်။
(၁၀) အတိသမဘာဂ ဥဒါသိန်။
(၁၁) အတိဝိသမဘာဂ ဥဒါသိန်။
(၁၂) ဒိနဒ္ဓ ဥဒါသိန်။
(၁၃) နိသဒ္ဓ ဥဒါသိန်။

## အာမေဍိတ်ဥဒါသိန်

ဟာ! ဟင်! ဟို! . . . စသည်ဖြင့် အလန့်တကြား၊ အံ့သြတကြီး ရေရွတ်ရခြင်းမျိုးကို အာမေဍိတ်ဟုခေါ်၏။ ယင်းတို့သည် ဆန်းတိုင်တွင် တိုင်ထိပ်၊ တန်းစီးနေက အကောင်းဘက်၊ ပြခွင် နိစ် နှစ်ဌာန နေပါက အဆိုးဘက်ကို အံ့ဖွယ်ကြုံရစေတတ်ကြောင်း ဟောပြောနိုင်၏။

လွယ်လွယ်ပြောရလျှင် ဖြိုက်တူထပ်၍ တွဲခြင်းသည် အာမေဍိတ် ဥဒါသိန်ဖြစ်၏။

၁-၁၊ ၂-၂၊ ၃-၃၊ ၄-၄၊ ၅-၅၊ ၆-၆၊ ၇-၇၊ ၈-၈. . . တို့ဖြစ်သည်။

ဂြိုဟ်တူထပ်၍ ယင်းတို့အားလုံးကို "အညမညဥဒါသိန်"ဟုဆိုရပါသည်။

ယင်းအာမေဍိတ် ဥဒါသိန်များတွင် သောမဂြိုဟ်ချင်း တွဲစပ်သည့် (၂-၂၊ ၄-၄၊ ၅-၅၊ ၆-၆) တို့ကို သမဘာဂအာမေဍိတ်ဥဒါသိန်ဟုခေါ်သကဲ့သို့ ပါပဂြိုဟ်ခြင်းတွဲစပ်သည့် (၃-၃၊ ၇-၇၊ ၁-၁၊ ၈-၈) ကိုလည်း သမဘာဂအာမေဍိတ်ဥဒါသိန်ဟုခေါ်၏။ ထို့ပြင် ဋ္ဌာနပမာဏဥဒါသိန်ဟုလည်းခေါ်ရပါသည်။

## သဟဇာတဥဒါသိန်

သောမနှင့် ပါပဂြိုဟ်များ မိတ်မဟုတ် ရန်မဟုတ်ပဲ တွဲစပ်ခြင်းမျိုးကို သဟဇာတဥဒါသိန်ဟုခေါ်သည်။

(၁-၂)၊ (၂-၁)၊ (၂-၃)၊ (၃-၂)၊ (၂-၇)၊ (၇-၂)၊ ဤဂြိုဟ်တွဲ (၆) တွဲတို့မှာ သဟဇာတဥဒါသိန်များဖြစ်သည်။ ဝိသမာဘာဂဥဒါသိန်များဟုလည်း ခေါ်သည်။

## အညမညဥဒါသိန်

သောမချင်း၊ ပါပချင်း၊ မိတ်၊ ရန်မဟုတ်ပဲ တွဲစပ်ခြင်းကို အညမညဥဒါသိန်ဟုခေါ်သည်။

(၃-၇)၊ (၇-၃)၊ (၄-၅)၊ (၅-၄)၊ (၅-၆)၊ (၆-၅)၊ တို့ဖြစ်သည်။ ယင်းတို့ကို "သမဘာဂဥဒါသိန်"ဟုလည်း ခေါ်သည်။

## ဒိနဒ္ဓဥဒါသိန်

(၅-၄)၊ (၄-၅)၊ (၅-၆)၊ (၆-၅)၊ စသည့် ကြာသပတေးဂြိုဟ်နှင့် ဗုဒ္ဓဟူးဂြိုဟ်အချင်းချင်း တွဲစပ်ခြင်း၊ ကြာသပတေးဂြိုဟ်နှင့် သောကြာဂြိုဟ်အချင်းချင်း တွဲစပ်ခြင်းကို ဒိနဒ္ဓဥဒါသိန်ဟု ခေါ်၏။

## နိသဒ္ဓဥဒါသိန်

(၃-၇)၊ (၇-၃) ဟူသော စနေနှင့် အင်္ဂါဂြိုဟ်အချင်းချင်း တွဲစပ်ခြင်းကို နိသဒ္ဓဥဒါသိန်ဟုခေါ်၏။

အထက်ပါ ဥဒါသိန်များတွင် သဟဇာတဥဒါသိန်များတွင် ရှေ့ဂြိုဟ်ကို အစွဲပြု၍ သောမဂြိုဟ်ရှေ့တွင်ရှိလျှင် "သောမရှေ့ဆောင်သော သဟဇာတဥဒါသိန်" ဟုခေါ်ပြီး ပါပဂြိုဟ်ရှေ့တွင်ရှိလျှင် "ပါပရှေ့ဆောင်သော သဟဇာတဥဒါသိန်" ဟုခေါ်သည်။

မိတ်၊ ရန်တို့တွင်လည်း ယင်းသို့ပင် သောမရှေ့ဆောင်သော သဟဇာတမိတ်၊ သောမရှေ့ဆောင်သော သဟဇာတရန်၊ ပါပရှေ့ဆောင်သော သဟဇာတမိတ်၊ ပါပရှေ့ဆောင်သော သဟဇာတရန်ဟုယူရမည်။

ကျန်သော အညမည မိတ်၊ ရန် ဥဒါသိန်စသည်တို့တွင် သောမရှေ့ဆောင်၊ ပါပရှေ့ဆောင် ဟူ၍ ယူရမည်။

ဤသို့ဆိုလျှင် နာမည် မှည့်ခေါ်ရန်၊ နာမည် ပေါကြွားရန်၊ ဆန်းကျမ်းဗေဒင်၏ အခြေခံလိုအပ်ချက်များ ပြည့်စုံပါပြီ။ မသိမဖြစ်၍ ဖော်ပြရခြင်းဖြစ်ရာ ယင်းအခြေခံများ ကြေညက်ပါမှ နာမည်ကောင်းတစ်ခု မှည့်ခေါ်နိုင်မည်ဖြစ်၍ ဂရုပြု၍ သည်းခံစိတ်ရှည်စွာ လေ့ကျက်မှတ်သားကြပါရန် တိုက်တွန်းအပ်ပါသည်။

## ❀ အခန်း(၃) ❀

# နာမည်မှည့်နည်းအမျိုးမျိုး

နာမည်မှည့်နည်း အမျိုးမျိုးရှိပါသည်။ ရှေးဆရာသမားများထံ နည်းခံ၍ ရသမျှနှင့် နာမည်မှည့်နည်းကျမ်းများအရ နာမည်မှည့်နည်း (၁၀)မျိုးကျော်ကျော် ရှိပါသည်။

(၁) မျိုးရိုးစဉ်လာ မှည့်ခေါ်နည်း။
(၂) အတိတ်၊ နိမိတ်တို့ကို အစွဲပြု၍ မှည့်ခေါ်နည်း။
(၃) နေ့သင့်နံသင့်အလိုက် မှည့်ခေါ်နည်း။
(၄) မိတ်ဓာတ်ဖြင့် မှည့်ခေါ်နည်း။
(၅) ရန်ဓာတ်ဖြင့် မှည့်ခေါ်နည်း။
(၆) မွေးနံ၏ အမြစ်၊ အညွန့်တွဲ၍ မှည့်ခေါ်နည်း။
(၇) ပဥ္စပွတ်၊ ဆပွတ်၊ အညွန့်တွဲ၍ မှည့်ခေါ်နည်း။
(၈) မွေးနံနှင့် အညွန့်တွဲ၍ မှည့်ခေါ်နည်း။
(၉) မွေးနံနှင့် ပဥ္စပွတ်တွဲ၍ မှည့်ခေါ်နည်း။
(၁၀) မွေးနံနှင့် ဆပွတ်တွဲ၍ မှည့်ခေါ်နည်း။
(၁၁) နဝင်းကျေ မှည့်ခေါ်နည်း။
(၁၂) နေ့ထပ်ဖြင့် မှည့်ခေါ်နည်း။
(၁၃) ကဗျာဆန်ဆန်၊ လှလှပပ မှည့်ခေါ်နည်း။

(၁၄) မဟာဘုတ်ဖြင့် မှည့်ခေါ်နည်း။
(၁၅) ဇာတာခွင်ဖြင့် မှည့်ခေါ်နည်း။

ဟူ၍ ဖြစ်သည်။ ဤနည်းများမှာ မြန်မာတို့၏ ရိုးရာအစဉ်အလာ အရ ကျင့်သုံးခဲ့သော နည်းများကို အနှစ်ချုပ်ပါက ရရှိသော နာမည်မှည့် နည်းများဖြစ်သည်။ ယင်းနာမည် မှည့်နည်းများကို ခေါင်းစဉ်အလိုက် ဥပမာများဖြင့် ရှင်းပြပေးသွားပါမည်။

## (၁) မျိုးရိုးစဉ်လာအရ မှည့်ခေါ်နည်း

ဤနည်းမှာ အင်္ဂလိပ် ကိုလိုနီ စနစ်အောက် မြန်မာကျရောက် ခဲ့ပြီး ခရစ်ယာန် သာသနာပြုကျောင်းများတွင် တက်ရောက်သင်ကြားနိုင် သော ခေတ်မီသူများ ကျင့်သုံးကြသည်။ ယခုခေတ် နိုင်ငံတကာကျောင်း (International School)တက်ရောက်သူ ကလေးငယ်များနှင့်နိုင်ငံခြား မကြာခဏ သွားရောက်လေ့ရှိသော အခွင့်အလမ်းရသူများလည်း ကျင့်သုံး ကြသည်။

ဦးအောင်ထွန်း၏ သားဖြစ်၍ "မောင်သိန်းထွန်း" (သို့မဟုတ်) "မောင်ထက်အောင်ထွန်း"၊ မိန်းကလေးဖြစ်က "မိမိအောင်ထွန်း"ဟုမှည့် ခေါ်ခြင်းမျိုးဖြစ်၏။

ဖခင်ဖြစ်သူ၏ အမည်(သို့) ဖခင်အမည်၏ နောက်ဆုံးအလုံး၏ အမည်၏ နောက်ဆုံးတွင်တွဲ၍ မှည့်ခေါ်ခြင်းမျိုးဖြစ်သည်။ အင်္ဂလိုအင်ဒီးယန်း ကပြားများ၊ ခရစ်ယာန်ဘာသာကိုးကွယ်သူများ အသိုင်းအဝိုင်းတွင် မှည့်ခေါ် လေ့ရှိသောနည်းဖြစ်သည်။

## (၂) အတိတ်နိမိတ်ကို အစွဲပြု၍ မှည့်ခေါ်ခြင်း

ယင်းနည်းတွင် အောင်လံများဖြင့် တပ်မတော်နေ့ ချီတက်ပွဲမျိုး တွေ့မြင်ရပြီး မွေးဖွား၍ "မောင်အောင်လံ" ဟုမှည့်ခေါ်ခြင်းမျိုးဖြစ်သည်။

ဆွေမျိုးများ စုံစင်စွာရှိစဉ် မွေးဖွား၍ "မောင်ပြည့်စုံ၊ မပြည့်စုံ" ဟုမှည့်ခေါ်ခြင်း၊ မကျန်းမမာ မွေးဖွား၍ ကျန်းမာစေရန် "မောင်သံချောင်း" ဟုမှည့်ခေါ်ခြင်း၊ အောင်ခြင်းရှစ်ပါး သီချင်းသံကြားပြီး မွေးဖွားလာ၍

"မောင်အောင်"ဟုမှည့်ခေါ်ခြင်း စသည်ဖြင့် မှည့်ခေါ်ခြင်းမျိုးဖြစ်၏။

## (၃) နေ့သင့်နံသင့်အလိုက် မှည့်ခေါ်ခြင်း

ဤနည်းမှာ ရိုးလှ၍ ယခုခေတ် မသုံးလှတော့ပါချေ။ အချို့ကား အသုံးပြုဆဲဖြစ်သော်လည်း အသုံးနည်းသွားပြီဖြစ်၏။

တနင်္ဂနွေ သားသမီးဖြစ်၍

မောင်အောင်၊ မအေး၊ မောင်ဦး ဟုမှည့်ခေါ်ခြင်း။

တနင်္လာ သားသမီးဖြစ်၍

မကြဲ၊ မောင်ကောင်း၊ မောင်ခင်၊ မချို ဟု မှည့်ခေါ်ခြင်း။

အင်္ဂါ သားသမီးဖြစ်၍

မောင်စိုး၊ မစု၊ မစိန်၊ မောင်စံ ဟု မှည့်ခေါ်ခြင်း။

ဗုဒ္ဓဟူးသားသမီးဖြစ်၍

မောင်ရွှေ မောင်လင်း၊ မောင်လှ၊ မောင်လွင်၊ မဝင်းဟုမှည့်ခေါ်ခြင်း။

ကြာသပတေးသားသမီးဖြစ်၍

မောင်မြင့်၊ မောင်မျိုး၊ မမိုး ဟု မှည့်ခေါ်ခြင်း။

သောကြာသားသမီးဖြစ်၍

မသင်း၊ မောင်သန်း၊ မသူ၊ မောင်သိန်း၊ မဟန်ဟုမှည့်ခေါ်ခြင်း။

စနေသားသမီးဖြစ်၍

မောင်ထွန်း၊ မထူး၊ မောင်တင့်ဟု မှည့်ခေါ်ခြင်း

စသည်ဖြင့် ဖြစ်သည်။ ဤနည်းတွင် ယခုခေတ်၌ တစ်လုံးတည်းထက် (၂) လုံး၊ (၃)လုံး ထပ်မှည့်ခေါ်ခြင်းများလာ၏။ ယင်းကို နေ့ထပ်မှည့်ခေါ် ခြင်းနည်းတွင် ရှင်းပြပါဦးမည်။

## (၄) မိတ်တတ်ဖြင့် မှည့်ခေါ် ခြင်းနည်း

ရှေ့ပိုင်းတွင် ဖော်ပြထားသော မိတ်လက်ာများရလျှင် မခက်တော့ပါ။ "အောင်-ပ၊ ကု-လား၊ ဆွေ-သား၊ နောင်-ရင်း"၊ "ဦး-သာ၊ စိန်-ပန်း၊ ဒန်း-လှ၊ ကို-ရှာ" ဟူသော လင်္ကာနှစ်ခုကို ရထားလျှင် လွယ်ကူစွာ နာမည်ပေးနိုင်ပါလိမ့်မည်။

ဦး - သာ အရ

အောင်သန်း၊ အောင်သိန်း၊ အောင်သူ၊ သန်းအောင်၊ သိန်းအောင်ဟု မှည့်နိုင်၏။

စိန် - ပန်း အရ

စိန်မြင့်၊ မြင့်စိန်၊ စိန်မောင်၊ စန်းမြင့်၊ မြင့်စန်း၊ စသည်ဖြင့်မှည့်နိုင်၏။

ဒန်း - လှ အရ

ထွန်းလှ၊ လှထွန်း၊ ထွန်းလွင်၊ လွင်ထွန်း၊ စသည်ဖြင့် မှည့်နိုင်၏။

ကို - ရှာ အရ

ကျော်ရင်၊ ရင်ကျော်၊ ကျော်ရွှေ ရွှေကျော် စသည်ဖြင့်မှည့်နိုင်၏။

အောင် - ပ အရ

အောင်မြင့်၊ မြင့်အောင်၊ အောင်မိုး၊ မိုးအောင်၊ အောင်မင်းစသည်ဖြင့်မှည့်နိုင်၏။

ကု - လား အရ

ကျော်လွင်၊ လွင်ကျော်၊ ကျော်လင်း၊ လင်းကျော် စသည်ဖြင့်မှည့်နိုင်၏။

ဆွေ - သား အရ

စိန်သောင်း၊ သောင်းစိန်၊ စိုးသိန်း၊ သိန်းစိုး စသည်ဖြင့် မှည့်နိုင်၏။

နှောင် - ရင်း အရ

ထွန်းရွှေ၊ ရွှေထွန်း၊ ထွန်းရီ၊ ထွန်းရင် စသည်ဖြင့် မှည့်နိုင်၏။

## (၅) ရန်တတ်ဖြင့် မှည့်ခေါ်ခြင်းနည်း

"ဥစ္စာလိုရန်ဖြိုဟ်ရှာ" ဟူသော ရှေးစကားအရ စီးပွားဖြစ်ထွန်း၍ကြီးပွားချမ်းသာစေရန် ရန်ဖြိုဟ်ဖြင့် တွဲ၍ နာမည်မှည့်ခြင်းမျိုးလည်းရှိခဲ့ပါသည်။

"ဦး-ညို၊ ခေ-မာ၊ သု-တ၊ ဝေ-ရီ" နှင့် "ခ-မွာ၊ သော-က၊ အင်း-ဝ၊ ရာ-ဇာ"လက်ာများ ရထားရန်လိုပါသည်။

ဦး - ညို အုရ

အောင်ညွန့်၊ အောင်စိုး၊ အောင်ညိမ်း၊ ညွန့်အောင်၊ စိုးအောင်၊ ညိမ်းအောင်၊ စသည်ဖြင့် မှည့်နိုင်ပါသည်။

ဓေ - မာ အုရ

ချစ်မြိုင်၊ ခင်မြင့်၊ မြင့်ခင်၊ ခင်မောင် စသည်ဖြင့် မှည့်နိုင်ပါသည်။

သု - တ အုရ

သာထက်၊ သာထွန်း၊ ထွန်းသာ၊ ထွန်းသူ၊ တင်သန်း၊ သန်းတင် စသည်ဖြင့် မှည့်နိုင်ပါသည်။

ဝေ - ရီ အုရ

ရွှေဝင်း၊ ဝင်းရွှေ၊ ဝင်းရင်၊ ရွှေလင်း၊ စသည်ဖြင့် မှည့်နိုင်ပါသည်။

ဓ - မ္မာ အုရ

ထွန်းမြင့်၊ မြင့်ထွန်း၊ တင်မြင့်၊ မြင့်တင် စသည်ဖြင့်မှည့်နိုင်ပါသည်။

သော - က အုရ

သိန်းခိုင်၊ ခိုင်သိန်း၊ ခိုင်သန်း၊ ချစ်သန်း စသည်ဖြင့် မှည့်နိုင်ပါသည်။

အင်း - ဝ အုရ

အောင်ဝင်း၊ အောင်လင်း၊ ဝင်းအောင်၊ လင်းအောင်စသည်ဖြင့် မှည့်နိုင်ပါသည်။

ရာ - ဇ အုရ

ရွှေစင်၊ စိုးရွှေ၊ ဆွေယု၊ ယုဆွေ၊ ယဉ်စိုး၊ စိုးရင် စသည်ဖြင့်မှည့် နိုင်ပါသည်။

မှတ်ချက်။ ။ မိတ်အမည်၊ ရန်အမည်များမှာ နှစ်လုံးတွဲသာ မှည့်သင့်သည်။ (၃)လုံးမှည့်ပါက မိတ်၊ ရန်သဘောများ ပျက်စေတတ်၍ သတိပြုရမည်။

## (၆) အမြစ်၊ အညွန့်တွဲ၍ မှည့်ခေါ်ခြင်း

မွေးနံကို တစ်လုံးလျှော့ကာ "အမြစ်" ရ၍ တစ်လုံးတိုးပါက "အညွန့်"ရ၏။

ဦး - သာ အရ

အောင်သန်း၊ အောင်သိန်း၊ အောင်သူ၊ သန်းအောင်၊ သိန်းအောင်ဟု မှည့်နိုင်၏။

စိန် - ပန်း အရ

စိန်မြင့်၊ မြင့်စိန်၊ စိန်မောင်၊ စန်းမြင့်၊ မြင့်စန်း၊ စသည်ဖြင့်မှည့်နိုင်၏။

ဒန်း - လှ အရ

ထွန်းလှ၊ လှထွန်း၊ ထွန်းလွင်၊ လွင်ထွန်း၊ စသည်ဖြင့် မှည့်နိုင်၏။

ကို - ရှာ အရ

ကျော်ရင်၊ ရင်ကျော်၊ ကျော်ရွှေ ရွှေကျော် စသည်ဖြင့်မှည့်နိုင်၏။

အောင် - ပ အရ

အောင်မြင့်၊ မြင့်အောင်၊ အောင်မိုး၊ မိုးအောင်၊ အောင်မင်းစသည်ဖြင့်မှည့်နိုင်၏။

ကု - လား အရ

ကျော်လွင်၊ လွင်ကျော်၊ ကျော်လင်း၊ လင်းကျော် စသည်ဖြင့်မှည့်နိုင်၏။

ဆွေ - သား အရ

စိန်သောင်း၊ သောင်းစိန်၊ စိုးသိန်း၊ သိန်းစိုး စသည်ဖြင့် မှည့်နိုင်၏။

နှောင် - ရင်း အရ

ထွန်းရွှေ၊ ရွှေထွန်း၊ ထွန်းရီ၊ ထွန်းရင် စသည်ဖြင့် မှည့်နိုင်၏။

## (၅) ရန်တတ်ဖြင့် မှည့်ခေါ်ခြင်းနည်း

"ဥစ္စာလိုရန်ပြိုဟ်ရှာ" ဟူသော ရှေးစကားအရ စီးပွားဖြစ်ထွန်း၍ ကြီးပွားချမ်းသာစေရန် ရန်ပြိုဟ်ဖြင့် တွဲ၍ နာမည်မှည့်ခြင်းမျိုးလည်းရှိခဲ့ပါသည်။

"ဦး-ညို၊ ခေ-မာ၊ သု-တ၊ ဝေ-ရီ" နှင့် "မ-မွှာ၊ သော-က၊ အင်း-ဝ၊ ရာ-ဇာ"လက်ာများ ရထားရန်လိုပါသည်။

ဦး - ညို အရ

အောင်ညွန့်၊ အောင်စိုး၊ အောင်ညိမ်း၊ ညွန့်အောင်၊ စိုးအောင်၊ ညိမ်းအောင်၊ စသည်ဖြင့် မှည့်နိုင်ပါသည်။

ဒေ - မာ အရ

ချစ်မြိုင်၊ ခင်မြင့်၊ မြင့်ခင်၊ ခင်မောင် စသည်ဖြင့် မှည့်နိုင်ပါသည်။

သူ - တ အရ

သာထက်၊ သာထွန်း၊ ထွန်းသာ၊ ထွန်းသူ၊ တင်သန်း၊ သန်းတင် စသည်ဖြင့် မှည့်နိုင်ပါသည်။

ဝေ - ရီ အရ

ရွှေဝင်း၊ ဝင်းရွှေ၊ ဝင်းရင်၊ ရွှေလင်း၊ စသည်ဖြင့် မှည့်နိုင်ပါသည်။

ခ - မွှာ အရ

ထွန်းမြင့်၊ မြင့်ထွန်း၊ တင်မြင့်၊ မြင့်တင် စသည်ဖြင့်မှည့်နိုင်ပါသည်။

သော - က အရ

သိန်းခိုင်၊ ခိုင်သိန်း၊ ခိုင်သန်း၊ ချစ်သန်း စသည်ဖြင့် မှည့်နိုင်ပါသည်။

အင်း - ဝ အရ

အောင်ဝင်း၊ အောင်လင်း၊ ဝင်းအောင်၊ လင်းအောင်စသည်ဖြင့် မှည့်နိုင်ပါသည်။

ရာ - ဇ အရ

ရွှေစင်၊ စိုးရွှေ၊ ဆွေယု၊ ယုဆွေ၊ ယဉ်စိုး၊ စိုးရင် စသည်ဖြင့်မှည့်နိုင်ပါသည်။

မှတ်ချက်။ ။ မိတ်အမည်၊ ရန်အမည်များမှာ နှစ်လုံးတွဲသာ မှည့်သင့်သည်။ (၃)လုံးမှည့်ပါက မိတ်၊ ရန်သဘောများ ပျက်စေတတ်၍ သတိပြုရမည်။

## (၆) အမြစ်၊ အညွန့်တွဲ၍ မှည့်ခေါ်ခြင်း

မွေးနံကို တစ်လုံးလျှော့ကာ "အမြစ်" ရ၍ တစ်လုံးတိုးပါက "အညွန့်" ရ၏။

တနင်္ဂနွေသားသမီးအတွက်

စနေ + တနင်္လာ အမည်မှည့်ရပါမည်။ ထွန်းကျော်၊ ထက်ခိုင်၊ ထွန်းကြည်၊ ထွန်းခင်၊ တင်ခိုင် စသည်ဖြင့် မှည့်နိုင်ပါသည်။

တနင်္လာသားသမီးအတွက်

တနင်္ဂနွေ + အင်္ဂါအမည် မှည့်ရပါမည်။ အောင်စိုး၊ အောင်ဆွေ၊ အောင်စိန်၊ အိမ်စိုး စသည်ဖြင့် မှည့်နိုင်ပါသည်။

အင်္ဂါသားသမီးအတွက်

တနင်္လာ + ဗုဒ္ဓအမည် မှည့်ခေါ်ရပါမည်။ ကျော်လင်း၊ ခိုင်လင်း၊ ကျော်ဝေ၊ ကျော်ဝင်း၊ ကျော်လွင် စသည်ဖြင့် မှည့်ခေါ်နိုင်ပါသည်။

ဗုဒ္ဓဟူးသားသမီးအတွက်

အင်္ဂါ + ကြာသပတေး အမည်မှည့်ခေါ်ရပါမည်။ စိန်မင်း၊ စိန်မြင့်၊ စိန်မောင်၊ စိုးမင်း၊ ဆွေမင်း၊ စိန်မေ စသည်ဖြင့် မှည့်ခေါ်နိုင်ပါသည်။

ကြာသပတေးသားသမီးအတွက်

ဗုဒ္ဓဟူး + သောကြာ အမည် မှည့်ခေါ်ရပါမည်။ လွင်သိန်း၊ လွှမ်းသူ၊ လှသိန်း၊ လှသန်း၊ ဝင်းသန်း စသည်ဖြင့် မှည့်ခေါ်နိုင်ပါသည်။

သောကြာသားသမီးအတွက်

ကြာသပတေး + စနေ အမည်မှည့်ခေါ်ရပါမည်။ မြင့်ထွန်း၊ မြင့်တင်၊ မြနု၊ မြင့်ထူး စသည်ဖြင့် မှည့်ခေါ်နိုင်ပါသည်။

စနေသားသမီးအတွက်

သောကြာ + တနင်္ဂနွေ နာမည်မှည့်ခေါ်ရပါမည်။ သန်းအောင်၊ သန်းဦး၊ သိန်းဦး၊ သန်းအေး၊ သန်းအုန်း နာမည်များထဲမှ မှည့်ခေါ်နိုင်ပါသည်။

## (၇) ပဥ္စမွတ်၊ ဆပွတ်၊ အညွန့်တွဲ၍ မှည့်ခေါ်နည်း

ယခုခေတ်တွင် ဂမ္ဘီရစာရေးဆရာကြီးတစ်ဦးကြောင့် အသုံးများနေ၏။ ရဟန်းများ၊ ဘွဲ့အမည်ပေးရာတွင်လည်း ဤနည်းကို သုံးကြောင်း၊ ဆန်းကျမ်းအဖွင့်တစ်စောင်တွင် ဖတ်ရှုရဖူးပါသည်။

တနင်္ဂနွေသားသမီးအတွက်

ကြာသပတေး+သောကြာ+တနင်္လာ တွဲ၍ မှည့်ရ၏။ မင်းသူနိုင်၊ မင်းသိခ်၊ မြတ်သုခ၊ မင်းသွေးခန့်၊ မင်းသိန်းခိုင်၊ မေသူခင်၊ မြတ်ဟိန်းခန့် စသည်ဖြင့် မှည့်ခေါ်နိုင်ပါသည်။

တနင်္လာသားသမီးအတွက်

သောကြာ+စနေ+အင်္ဂါ တွဲ၍ မှည့်ရ၏။ သိန်းထိုက်စိုး၊ သန်းထိုက်ဇော်၊ ဟိန်းထက်ဇော်၊ ဟိန်းထက်စိုး၊ သူထူးစံ၊ သက်ထူးစု စသည်ဖြင့် မှည့်နိုင်ပါသည်။

အင်္ဂါသားသမီးအတွက်

စနေ+တနင်္ဂနွေ+ဗုဒ္ဓဟူးနံများ တွဲ၍ မှည့်ခေါ်ရမည်။ ထက်ဦးလွင်၊ ထွန်းအောင်လင်း၊ ထက်အောင်လင်း၊ ထူးအောင်လင်း၊ ထူးအောင်လွှမ်း စသည်ဖြင့် မှည့်ခေါ်နိုင်ပါသည်။

ဗုဒ္ဓဟူးသားသမီးအတွက်

တနင်္ဂနွေ+တနင်္လာ+ကြာသပတေး နံများတွဲ၍ မှည့်ခေါ်ရမည်။ အောင်ကျော်မိုး၊ အောင်ခိုင်မိုး၊ အောင်ခိုင်မင်း၊ အောင်ခန့်မင်း၊ အောင်ခန့်ပိုင် စသည်ဖြင့် မှည့်ခေါ်နိုင်ပါသည်။

ကြာသပတေးသားသမီးအတွက်

တနင်္လာ+အင်္ဂါ+သောကြာနံများ တွဲ၍ မှည့်ခေါ်ရမည်။ ကျော်စိုးဟန်၊ ကျော်စိုးသိန်း၊ ကျော်စုသွေး၊ ခိုင်စုသူ စသည်ဖြင့် မှည့်ခေါ်နိုင်ပါသည်။

သောကြာသားသမီးအတွက်

အင်္ဂါ+ဗုဒ္ဓဟူး+စနေ နံများတွဲ၍ မှည့်ခေါ်ရပါမည်။ စိုးလင်းထက်၊ စိုးဝင်းထွန်း၊ ဇော်လင်းထွန်း၊ ဇော်ဝင်းထွန်း၊ ဆုလင်းထွန်း စသည်ဖြင့် မှည့်ခေါ်ရပါမည်။

စနေသားသမီးအတွက်

ဗုဒ္ဓဟူး+ကြာသပတေး+တနင်္ဂနွေ နံများတွဲ၍ မှည့်ခေါ်ရပါမည်။ လွှမ်းမိုးအောင်၊ လွင်မြင့်အောင်၊ လွှမ်းပိုင်ဦး၊ ယမင်းဦး စသည်ဖြင့်မှည့်

